



# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့် ပြု မိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ-....၄၂၁...../၂၀၀၀။ ၂၀၀၀ ပြည့်နှစ်၊ ဩဂုတ် လ ၃၁ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ....ဦးငွေး နိုင်....

(ခ) အဘအမည် ....ဦး ဖိန်....

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၃/နခန(နိုင်)၀၀၀၁၃၀

(ဃ) နေရပ်လိပ်စာ အမှတ်၊ ၁၅၆/၁၆၀၊ ၃၆-လမ်း၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း လူသုံးကုန်ပစ္စည်း ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက် (Consumer Goods Manufacturing Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား နိုင်ငံတကာအဆင့်မီ ဖိတ်ခဲအမျိုးမျိုး ထုတ်လုပ်ခြင်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) မြေကွက်အမှတ် (၆၅)၊ မြေတိုင်းရပ်ကွက် (၄၂)၊ စက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်း

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၆၉.၄၀ သန်း (ကျပ်ခြောက်ဆယ့်ကိုး သန်း၊ လေးသိန်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

## အမိန့် ကြော်ငြာစာအမှတ်၊ ၃၅၄/၂၀၀၀ (မနသ)

ရန်ကုန်မြို့၊ ၁၃၆၂ ခုနှစ်၊ တော်သလင်းလဆန်း ၃ ရက်

(၂၀၀၀ ပြည့်နှစ်၊ ဩဂုတ်လ ၃၁ ရက် )

၁။ မြန်မာ ကုမ္ပဏီဖြစ်သော လူသုံးကုန်ပစ္စည်း ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် (Consumer Goods Manufacturing Co., Ltd.) မှ ဒေါ်ခင်ရီနှင့် ဦးနိုင်ဖြိုးကျော် အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်(၄၂)၊ မြေကွက်အမှတ် (၆၅)ရှိ မြို့ရွာနှင့် အိုးအိမ် ဖွံ့ဖြိုးရေး ဦးစီးဌာနပိုင်မြေ (၁.၄၂၃) ဧက (၅၇၅၈.၆၈ စတုရန်းမီတာ)ကို ငှါးရမ်း၍ စက်ရုံ တည်ဆောက်ပြီး နိုင်ငံတကာအဆင့်မီ ဓါတ်ခဲအမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၂၃-၆-၂၀၀၀)နေ့တွင် ကျင်းပ ပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၀/၂၀၀၀) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြ ခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့်သဘောတူညီခဲ့ပြီး (၂၁-၇-၂၀၀၀)နေ့တွင် ကျင်းပပြုလုပ်သည့် ကုန်သွယ်မှု မူဝါဒကောင်စီ၏(၉/၂၀၀၀)ကြိမ်မြောက်အစည်းအဝေးသို့ဆက်လက်တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက်အရ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ (၁၇-၈-၂၀၀၀) နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ (၃၁/၂၀၀၀) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် လူသုံးကုန်ပစ္စည်း ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် (Consumer Goods Manufacturing Co., Ltd.)အား နိုင်ငံတကာ အဆင့်မီ ဓါတ်ခဲအမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၄၂၁/၂၀၀၀ ကို ထုတ်ပေးလိုက်သည်။

၂။ လူသုံးကုန်ပစ္စည်း ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် (Consumer Goods Manufacturing Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလ အတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် လုပ်ငန်းအကောင်အထည် ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ခ)အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှုအခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့် အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်

အတွက်ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်းအကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေ အပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်နိုင်မှုအခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့တင်ပြ လျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေ ကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဇ)အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန် အကောက် များကိုကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ်အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှတင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ အပေါ်တွင်အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ် ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့် (ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါ အတိုင်း လိုက်နာဆောင်ရွက်ရမည်။

(က) ပြည်ပမှတင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှု မှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေး ချေစနစ် (Deferred Payment System)စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေးကိုယ်စားလှယ်၏စစ်ဆေးပြီးကြောင်းအထောက်အထား(Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ လူသုံးကုန်ပစ္စည်း ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် (Consumer Goods Manufacturing Co., Ltd.)သည် လုပ်ငန်းအတွက် ပြည်ပမှစက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများနှင့် ကုန်ကြမ်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ဝယ်ယူတင်သွင်းပြီး၊ ပြန်လည် ပေးဆပ်သည့်အခါ အဆိုပြုလုပ်ငန်းမှရရှိသည့် တရားဝင်နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်ရမည်။

၅။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ လုပ်ငန်းသုံးပစ္စည်းများ နှင့် ကုန်ကြမ်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေးချေစံနစ် (Deferred Payment System)စသည်တို့ဖြင့် ရယူဆောင်ရွက်ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိဘဲ ချေးငွေပေးသူနှင့် ယူသူတို့၏ တာဝန်သာ ဖြစ်စေရမည်။

၆။ လူသုံးကုန်ပစ္စည်း ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် (Consumer Goods Manufacturing Co., Ltd.)သည် ကနဦး ရင်းနှီးမြှုပ်နှံမှုကာလ ကုန်ဆုံးပြီး လုပ်ငန်းလည်ပတ်သည့်အခါ လိုအပ်သော ပြည်ပ ကုန်ကြမ်း များကို လုပ်ငန်းမှ ရရှိသည့် တရားဝင်နိုင်ငံခြားငွေဖြင့်သာ ဝယ်ယူခွင့်ရှိမည်။

၇။ အဆိုပြုချက်နှင့်အတူ ပူးတွဲတင်ပြသည့် သက်ဆိုင်ရာစာချုပ်စာတမ်းများကို တည်ဆဲဥပဒေများနှင့်အညီ ကုမ္ပဏီ၏အမည်အား တရားဝင်ပြောင်းလဲခွင့် ရရှိပြီးမှသာ နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုး ချုပ်ဆိုကြရမည်။

၈။ လူသုံးကုန်ပစ္စည်း ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် (Consumer Goods Manufacturing Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၉။ လူသုံးကုန်ပစ္စည်း ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် (Consumer Goods Manufacturing Co., Ltd.) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၁၀။ ကုမ္ပဏီ၏ အမည်ကို အိုဆိုအင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက်အမည်မှ လူသုံးကုန်ပစ္စည်း ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် (Consumer Goods Manufacturing Co., Ltd.) အမည်သို့ တရားဝင် အမည်ပြောင်းလဲရန်အတွက် ကုမ္ပဏီများ ညွှန်ကြားမှုဌာန၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထားရမည်။ ကုမ္ပဏီ၏ အမည်ကို တရားဝင်ပြောင်းလဲပြီးသည့်အခါ အောက်ဖော်ပြပါ စာရွက်စာတမ်း (၅) စောင်စီကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

(က) ကုမ္ပဏီ မှတ်ပုံတင် လက်မှတ် (Certificate of Incorporation)

(ခ) ကုမ္ပဏီများ ညွှန်ကြားမှု ဌာနက အတည်ပြုပြီးဖြစ်သည့် မြန်မာ–အင်္ဂလိပ် နှစ်ဘာသာဖြင့် ပြုစုထားသော ကုမ္ပဏီ သင်းဖွဲ့စည်းမျဉ်း နှင့် သင်းဖွဲ့မှတ်တမ်းများ (Memorandum and Articles of Association)

၁၁။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် မြေအငှားချထားသူ ဒေါ်ခင်ရီ၊ ဦးနိုင်ဖြိုးကျော်နှင့် အငှားချထားခြင်းခံရသူ လူသုံးကုန်ပစ္စည်း ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် (Consumer Goods Manufacturing Co., Ltd.)တို့ ချုပ်ဆိုမည့် မြေငှားရမ်းခြင်း သဘောတူစာချုပ်ကို လက်မှတ်ရေးထိုးပြီးသည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ (၅) စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

၁၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၁၃။ လူသုံးကုန်ပစ္စည်း ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် (Consumer Goods Manufacturing Co., Ltd.)မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု

ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထားရမည်။

၁၄။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၅။ လူသုံးကုန်ပစ္စည်း ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် (Consumer Goods Manufacturing Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံဂတိ ပြုထားသည့်အတိုင်း စံနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၆။ လူသုံးကုန်ပစ္စည်း ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် (Consumer Goods Manufacturing Co., Ltd.) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး ၃(သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၇။ အဆိုပြု လုပ်ငန်းစတင်ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၈။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

( ဦးသောင်း )
ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၁/မ-၅၅၈/၂၀၀၀ ( ၂၄၅၇ - ၉၃ )
ရက်စွဲ၊ ၂၀၀၀ ပြည့်နှစ်၊ ဩဂုတ်လ ၃၁ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ စစ်မဟာဗျူဟာ လေ့လာရေးရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာန။
၅။ အမှတ်(၂)စက်မှုဝန်ကြီးဌာန။
၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။
၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၉။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၀။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၁။ ဆောက်လုပ်ရေး ဝန်ကြီးဌာန။
၁၂။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၃။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၄။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၅။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ရှေ့နေချုပ်ရုံး။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၄။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။
၂၅။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၆။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၇။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များနှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။
၂၈။ အုပ်ချုပ်မှု ဒါရိုက်တာ၊ လူသုံးကုန်ပစ္စည်း ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် (Consumer Goods Manufacturing Co., Ltd.)။

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/ မ-၁၁၅၃/ ၂၀၀၀ (၁၂၇၄-ခ) ။
ရက်စွဲ၊ ၂၀၀၀ ပြည့်နှစ်၊ ဇွန်လ ၂၈ရက်။

<u>ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြသည့်</u>

<u>အမှာစာ</u>

အကြောင်းအရာ။ <u>လူသုံးကုန်ပစ္စည်း ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် မှ နိုင်ငံတကာအဆင့်မီ ဓါတ်ခဲအမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။</u>

၁။ မြန်မာကုမ္ပဏီဖြစ်သော လူသုံးကုန်ပစ္စည်း ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် (Consumer Goods Manufacturing Co., Ltd.) မှ နိုင်ငံတကာအဆင့်မီ ဓါတ်ခဲအမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်း အဆိုပြုချက်ကို (၂၃-၆-၂၀၀၀)နေ့တွင် ကျင်းပ ပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၀/၂၀၀၀)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရွှေဆိုင်းငွေပေးချေခြင်း စနစ် သဘောတူစာချုပ် (မူကြမ်း)၊ မြေငှားသဘောတူစာချုပ် (မူကြမ်း)နှင့် ဟောင်ကောင်ရှိ Pan Asian Enterprise Corp., နှင့် ချုပ်ဆိုထားသော MOA တို့ကို <u>နောက်ဆက်တွဲ(၁)</u> အဖြစ် တင်ပြထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၁.၀၅)သန်း အပါအဝင် စုစုပေါင်း ကျပ် (၆၉.၄၀)သန်း ဖြစ်ပါသည်။ ယင်းတွင်ငွေသား ကျပ် (၅.၃၃)သန်း၊ စက်ပစ္စည်းကိရိယာ တန်ဖိုး ကျပ် (၅.၃၈)သန်း {အမေရိကန်ဒေါ်လာ (၀.၉၀)သန်း}၊ အဆောက်အဦတန်ဖိုး ကျပ် (၅၀.၀၀)သန်း၊ ကုန်ကြမ်းပစ္စည်း တန်ဖိုး ကျပ် (၈.၆၉)သန်း {အမေရိကန်ဒေါ်လာ (၀.၁၅)သန်း အပါအဝင်} ထည့်ဝင် ရင်းနှီးမည် ဖြစ်ပါသည်။ စက်ပစ္စည်းနှင့် ကုန်ကြမ်းပစ္စည်းများကို ဟောင်ကောင် ရှိ Pan Asian Enterprise Corporation မှ Buy-Back စနစ်ကို အခြေခံ၍ ရွှေဆိုင်းငွေပေးချေခြင်း စနစ်အရ အတိုးမဲ့ ဝယ်ယူမည်ဖြစ်ပြီး (၅)နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည် ဖြစ်ပါသည်။

၃။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန် အတွက် မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနထံမှ ဒေါ်ခင်ရီနှင့် ဦးနိုင်ဖြိုးကျော် အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော မြေကွက်အမှတ် (၆၅)၊ မြေတိုင်းရပ်ကွက် (၄၂)၊ စက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းရှိမြေ (၁.၄၂၃) ဧက (၅၇၅၈.၆၈ စတုရန်းမီတာ) ကို ငှားရမ်း၍ စက်ရုံတည်ဆောက်ပြီး လုပ်ငန်းဆောင်ရွက်မည် ဖြစ်ပါသည်။

၄။ ယင်းလုပ်ငန်းမှ ထုတ်လုပ်သည့် ဖါတ်ခဲများကို ပြည်တွင်းတွင် (၆၀) ရာခိုင်နှုန်းနှင့် ပြည်ပသို့ (၄၀) ရာခိုင်နှုန်း ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ်တွင် ထုတ်လုပ်မှု နှင့် ရောင်းဈေးနှုန်း များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အကြောင်းအရာ | ပြည်တွင်းရောင်း | | ပြည်ပရောင်း | |
|---|---|---|---|---|---|
| | | ထုတ်လုပ်မှု (ဒါဇင်, ၀၀၀) | ရောင်းဈေးနှုန်း (ကျပ်/ဒါဇင်) | ထုတ်လုပ်မှု (ဒါဇင်, ၀၀၀) | ရောင်းဈေးနှုန်း (US $/ဒါဇင်) |
| ၁။ | Large Size | ၆၀၀ | ၂၀၀ | ၄၀၀ | ၁.၄ |
| ၂။ | Medium Size | ၄၈၀ | ၁၇၀ | ၃၂၀ | ၁.၂ |
| ၃။ | Small Size | ၆၀၀ | ၁၄၀ | ၄၀၀ | ၁ |

၅။ ယင်းလုပ်ငန်းအတွက် လိုအပ်သော ကုန်ကြမ်းပစ္စည်းများကို ပြည်တွင်း၊ ပြည်ပမှ ဝယ်ယူမည် ဖြစ်ပါသည်။

၆။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(ကျပ်သန်း)

| | | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|---|
| (က) | ဝင်ငွေ | ၂၈၅.၆၀ | ၈.၀၆ | ၂၉၃.၆၆ |
| (ခ) | အသုံးစရိတ် | ၂၇၁.၄၇ | ၅.၇၄ | ၂၇၇.၂၁ |
| (ဂ) | အသားတင်အမြတ် | ၁၄.၁၃ | ၂.၃၂ | ၁၆.၄၅ |

၇။ ယင်းလုပ်ငန်း၏ အရင်းကြေကာလမှာ (၃)နှစ်ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၂၉.၀၈)ရာခိုင်နှုန်း ဖြစ်ပါသည်။

၈။ ယင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | |
|---|---|---|---|
| (က) | ဝင်ငွေခွန် | ကျပ် | ၆.၀၆ သန်း |
| | | အမေရိကန်ဒေါ်လာ | ၀.၀၇ သန်း |
| (ခ) | ကုန်သွယ်လုပ်ငန်းခွန် | ကျပ် | ၄၇.၆၀ သန်း |

၉။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၇၅)ဦး နှင့် ပြည်ပမှ ဝန်ထမ်း (၁၅)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၁၀။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် အမှတ် (၂) စက်မှု ဝန်ကြီး ဌာနသို့ သဘောထားမှတ်ချက် ကောင်းခံရာ ထုတ်လုပ်မည့် ဖါတ်ခဲသည် အရည်အသွေးကောင်းမွန်ပြီး သတ်မှတ်သည့် စံချိန်စံညွှန်း ကိုက်ညီပါက ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြားလာ ပါသည်။

၁၁။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး၊ နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု နှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန် အတွက် လိုအပ်သော အစီအမံများ ကြိုတင် ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ ကုန်ချောပစ္စည်းများအတွက် Buy-Back System ဖြင့် ပြည်ပသို့ တင်ပို့ရောင်းချရန် ဈေးကွက်ရှိပြီး ဖြစ်ကြောင်း၊ ကုန်ချောပစ္စည်းများကို မိမိကိုယ်ပိုင်အမှတ်တံဆိပ်ဖြင့် တရားဝင်မှတ်ပုံတင်ပြီး ထုတ်လုပ် ဖြန့်ဖြူးရောင်းချမည်ဖြစ်ကြောင်း၊ ချေးငွေရယူခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိဘဲ မိမိတို့ ကုမ္ပဏီ၏ တာဝန်သာဖြစ်ကြောင်း၊ ချေးငွေကို ပြန်လည်ပေးဆပ်ရာတွင်လည်း လုပ်ငန်းမှထွက်ရှိသော ကုန်ချောပစ္စည်းများကို ရောင်းရငွေမှ ပစ္စည်းဖိုးကို ခုနှိမ်မည်ဖြစ်ကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်း ဒေသန္တရစက်မှုကြီးကြပ်ရေးနှင့် လုပ်ငန်းစစ်ဆေးရေး ဌာနခွဲမှ ဦးစီးဌာနတွင် မှတ်ပုံတင်ထားရှိမည်ဖြစ်ကြောင်းနှင့် လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိ ပြုထားပါသည်။

၁၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ ပါသည်။

၁၃။ ဆုံးဖြတ်ရန်အချက်။

(က) လူသုံးကုန်ပစ္စည်း ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက်မှ နိုင်ငံတကာအဆင့်မီ ဓါတ်ခဲအမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက် ရန် အဆိုပြု တင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ–မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ–မတူ။

၁၄။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။

ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

( ဦးသောင်း )

ဥက္ကဋ္ဌ

ဝန်ကြီး၊ သိပ္ပံ နှင့် နည်းပညာ ဝန်ကြီးဌာန။

ကုန်သွယ်မှု မူဝါဒ ကောင်စီ။




CONSUMER GOODS MANUFACTURING CO., LTD.

လူသုံးကုန်ပစ္စည်းထုတ်လုပ်ရေးကုမ္ပဏီလီမိတက်

No.45 (Ground Floor), Bosunpat Street, Pabedan Township, Yangon, Myanmar.Ph: 01-287199,287537



၅။ သို့ဖြစ်ပါ၍ နိုင်ငံတော်အတွက် အခွန်ဘဏ္ဍာငွေများ ရရှိစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံ၏ စီးပွားရေးဖွံ့ဖြိုးတိုးတက်လာစေရန်အတွက်လည်းကောင်း၊ ကျွန်တော်များ၏ လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးပါရန်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်တို့ကိုလည်း ခံစားခွင့်ပြုပါရန် လျှောက်ထားအပ်ပါသည်။

၆။ ဤလျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါ အထောက်အထားစာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ကမကထပြုသူ၏ လုပ်ငန်းဆောင်ရွက်ရန်အဆိုပြုချက်၊

(ခ) ဘဏ္ဍာရေးအချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုဇယားများ၊

(ဂ) Deferred Payment Loan Agreement on the basis of buy-back system (draft)

(ဃ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး အထောက်အထားများ၊

(င) ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းနှင့် ကုမ္ပဏီမှတ်ပုံတင်ထားပြီးဖြစ်ကြောင်း အထောက်အထားများ၊

လေးစားစွာဖြင့်

လျှောက်ထားသူ

HTAY NAING
(Managing Director)
Consumer Goods Manufacturing Co., Ltd.

ဦးဌေးနိုင်

မန်နေဂျင်းဒါရိုက်တာ

Consumer Goods Manufacturing Co.,Ltd




**CONSUMER GOODS MANUFACTURING CO., LTD.**

လူသုံးကုန်ပစ္စည်းထုတ်လုပ်ရေးကုမ္ပဏီလီမိတက်

No.45 (Ground Floor), Bosunpat Street, Pabedan Township, Yangon, Myanmar.Ph: 01-287199,287537


သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုမြန်မာနိုင်ငံတော်
ရန်ကုန်မြို့။

ရက်စွဲ။ ။ ၂၀၀၀ ခုနှစ်၊ ဇန်နဝါရီလ (၂၆) ရက်

အကြောင်းအရာ ။ ။ **နိုင်ငံတကာအဆင့်မီ ဓာတ်ခဲအမျိုးမျိုးထုတ်လုပ်သည့် လုပ်ငန်းဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ ကတိဝန်ခံချက်တင်ပြခြင်း။**

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံတွင် တရားဝင် ဖွဲ့စည်းတည်ထောင်ထားသော Consumer Goods Manufacturing Co.,Ltd သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ နိုင်ငံတကာအဆင့်မီ ဓာတ်ခဲအမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြလျှောက်ထားခြင်း ဖြစ်ပါသည်။ ထိုသို့ လျှောက်ထားရာတွင် ခွင့်ပြုမိန့် ရရှိနိုင်ရေးအတွက် အောက်ပါတို့ကို ဝန်ခံကတိပြုပါသည်။

(က) ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပါသည်။ ဤလုပ်ငန်းတွင် နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင်မှုမရှိပါကြောင်း ဝန်ခံကတိပြုတင်ပြအပ်ပါသည်။

(ခ) ဤစက်ရုံမှ ထွက်ရှိလာသော ကုန်ချောပစ္စည်းများအတွက် Buy Back System ဖြင့်ပြည်ပသို့ တင်ပို့ရောင်းချရန် ဈေးကွက်ရှိပြီးဖြစ်ပါသည်။ ကုန်ချောပစ္စည်းများကို မိမိကိုယ်ပိုင်အမှတ်တံဆိပ်များဖြင့် တရားဝင်မှတ်ပုံတင်ပြီး ထုတ်လုပ်ဖြန့်ဖြူးရောင်းချမည်ဖြစ်ပါသည်။

(ဂ) နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့်စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ကတိပြုပါသည်။

(ဃ) ဤလုပ်ငန်းသည် လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

(င) ထို့အပြင် ကျွန်တော်များကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပွားရန်အတွက်လည်းကောင်း၊ မီးဘေးအန္တရာယ်မဖြစ်ပွားစေရန်အတွက်


CONSUMER GOODS MANUFACTURING CO., LTD.

လူသုံးကုန်ပစ္စည်းထုတ်လုပ်ရေးကုမ္ပဏီလီမိတက်

No.45 (Ground Floor), Bosunpat Street, Pabedan Township, Yangon, Myanmar.Ph: 01-287199,287537



လည်းကောင်း၊ လိုအပ်သော အစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ် ဆောင်ရွက်ထားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(စ) Consumer Goods Manufacturing Co., Ltd သည် Hong Kong ရှိ Pan Asian Enterprise Corporation မှ စက်ပစ္စည်း ကရိယာများနှင့် ကုန်ကြမ်းများကို Deferred Pyament Loan Agreement on the Basis of Buy Back System ဖြင့် ရယူခြင်း ကိစ္စသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်းမရှိဘဲ မိမိတို့ကုမ္ပဏီများ၏ တာဝန်သာဖြစ်ကြောင်းနှင့် ယင်းချေးငွေကို ဤလုပ်ငန်းမှ ထွက်ရှိသော ကုန်ချောပစ္စည်းများကိုရောင်းရငွေမှ ပစ္စည်းဖိုးကိုခုနှိမ်မည်ဖြစ်ကြောင်း တာဝန်ယူပါသည်။

(ဆ) Consumer Goods Manufacturing Co.,Ltd အနေဖြင့် ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်း ဒေသန္တရ စက်မှုကြီးကြပ်ရေးနှင့် လုပ်ငန်းစစ်ဆေးရေး ညွှန်ကြားမှုဦးစီးဌာနတွင် ပုဂ္ဂလိကစက်မှုလုပ်ငန်းအဖြစ် မှတ်ပုံတင်ထားရှိမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(ဇ) Consumer Goods Manufacturing Co.,Ltd မှ ထုတ်လုပ်မည့် နိုင်ငံတကာအဆင့်မီဓာတ်ခဲများကိုရောင်းချရန် ပြည်တွင်းပြည်ပ ဈေးကွက်ရှိပြီးဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

HTAY NAING
(Managing Director)
Consumer Goods Manufacturing Co., Ltd.

ဦးဌေးနိုင်
မန်နေဂျင်းဒါရိုက်တာ
Consumer Goods Manufacturing Co.,Ltd

T.1.00

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ
ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်
[ ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ဂ ]

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်၊
ရက်စွဲ ၊ ၂၀၀၀ ခုနှစ်၊ ဇန်နဝါရီလ၊ ( ၂၆ ) ရက်။

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံလိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါအချက်များဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏ -

| | | |
|---|---|---|
| (က) | အမည် | - ဦးငွေးနိုင် |
| (ခ) | အဖအမည် | - ဦးစိန် |
| (ဂ) | နိုင်ငံသား / အမျိုးသားမှတ်ပုံတင်အမှတ် | - ၁၃/နခန (ဧည့်) ၀၀၀၁၃၀ |
| (ဃ) | နေရပ်လိပ်စာ | - အမှတ် ၁၅၆/၁၆၀၊ ၃၆ လမ်း၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့။ |
| (င) | လူမျိုး၊ ဘာသာ | - တရုတ်၊ ဗုဒ္ဓဘာသာ |
| (စ) | အဖွဲ့အစည်းအမည် | - Consumer Goods Manufacturing Co.,Ltd လူသုံးကုန်ပစ္စည်းထုတ်လုပ်ရေးကုမ္ပဏီလီမိတက် |
| (ဆ) | လုပ်ငန်းအမျိုးအစား | - နိုင်ငံတကာအဆင့်မီ ခေတ်ခဲအမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း |
| (ဇ) | အဖွဲ့အစည်းတည်နေရာအရပ် | - အမှတ် ၁၅၆/၁၆၀၊ ၃၆ လမ်း၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့။ |

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏ -

(က) အမည် (၁) ------------------------ (၂) ------------------------

------------------------ ------------------------

------------------------ ------------------------

(ခ) အဖအမည် (၁) ------------------------ (၂) ------------------------

------------------------ ------------------------

------------------------ ------------------------

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ်

(၁) ------------------------ (၂) ------------------------

------------------------ ------------------------

------------------------ ------------------------

(ဃ) နေရပ်လိပ်စာ

(၁) ------------------------ (၂) ------------------------

------------------------ ------------------------

------------------------ ------------------------

(င) လူမျိုးဘာသာ

(၁) ------------------------ (၂) ------------------------

------------------------ ------------------------

------------------------ ------------------------

(စ) အဖွဲ့အစည်းအမည် ----------------------------------------------------------

(ဆ) လုပ်ငန်းအမျိုးအစား ----------------------------------------------------------

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် ----------------------------------------------------------

(နှစ်ဦး သို့မဟုတ် အဖွဲ့အစည်း ၂ ခုထက်ပိုပါက သီးခြားစာရွက်တွင်ဖော်ပြပူးတွဲရန်)

၃။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား -

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း - နိုင်ငံတကာအဆင့်မီ ဓာတ်ခဲအမျိုးမျိုးထုတ်လုပ်ခြင်း လုပ်ငန်း

(ခ) ဝန်ဆောင်မှုလုပ်ငန်း - ----------------------------------------------------------

(ကုန်ပစ္စည်းအမည် သို့မဟုတ် ဝန်ဆောင်မှုအမျိုးအစားကိုဖော်ပြရန်)

၄။ လုပ်ကိုင်မည့်စီးပွားရေးပုံစံ -

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။

------------------------------------------------------------

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။

--------------------------- မရှိပါ -------------------------

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။

--------------------------- မရှိပါ -----------------------------

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဍာန် -

(က) တစ်ဦးတည်းပိုင် - ------------------------------------------------------

(ခ) ဖက်စပ် / အစုစပ်လုပ်ငန်း - ------------------------------------------------------

(ဂ) လီမိတက်ကုမ္ပဏီ - Consumer Goods Manufacturing Co., Ltd.

(ဃ) သမဝါယမအသင်း - ------------------------------------------------------

(အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ/အများပိုင်ကုမ္ပဏီဟုဖော်ပြ၍ ထည့်ဝင်မည့် မ,တည်ငွေရင်းအမျိုးအစား၊ စီမံခန့်ခွဲသူ/စီမံခန့်ခွဲမည့် နောက်ဆက်တွဲ (၁) သူများ၏ အမည်၊ နေရပ်လိပ်စာများနှင့် ရာထူးတို့ကိုပူးတွဲတင်ပြရန်)

၆။ ဖက်စပ်/အစုစပ်လုပ်ငန်းဖြစ်ပါက -

(က) အစုစပ်တို့က ထည့်ဝင်မည့်အစုငွေ အမျိုးအစားနှင့်ပမာဏ

------------------------------------------------------------------------

(ခ) အကျိုးအမြတ်ခွဲဝေမည့်အမျိုးအစား ------------------------------------------------

(ဂ) အစုဝင်များ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များ ------------------------------------------

(နေရာမလုံလောက်က သီးခြားစာရွက်ဖြင့် ဖော်ပြရန်)

၇။ သမဝါယမအသင်း/လီမိတက်ကုမ္ပဏီဖြစ်ပါက -

(က) ခွင့်ပြုမတည်ငွေရင်း - ကျပ် ၁၀၀,၀၀၀,၀၀၀/-

(ခ) အစုရှယ်ယာ အမျိုးအစား - တစ်စုလျှင် ကျပ် ၁၀,၀၀၀/- တန်အစုရှယ်ယာ (၁၀၀၀၀)စု

(ဂ) အစုရှယ်ယာများကထည့်ဝင်မည့်အစုရှယ်ယာ ပမာဏ - ကျပ် ၆၄,၀၀၀,၀၀၀/-

| (က) မတည်ငွေရင်းပမာဏ (ထောင်ပေါင်း) | ကိုယ်ပိုင် ကျပ် | နိုင်ငံခြားငွေ US$ | စုစုပေါင်း ကျပ် |
|---|---|---|---|
| (၁) ငွေပမာဏ - (နိုင်ငံခြား မ,တည်ငွေပါဝင်ပါကသီးခြားဖော်ပြရန်) | ၅၃၃၀ | - | ၅၃၃၀ |
| (၂) စက်ပစ္စည်းကရိယာများ တန်ဖိုးပမာဏ (အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်) **နောက်ဆက်တွဲ ၂** | - | ၈၉၇ | ၅၃၈၂ |
| (၃) မြေ | | | |
| (၄) အဆောက်အအုံများ **နောက်ဆက်တွဲ (၁၀)** | ၅၀၀၀၀ | - | ၅၀၀၀၀ |
| (၅) ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးပမာဏ | | - | |
| (၆) ကုန်ကြမ်းပစ္စည်းတန်ဖိုးပမာဏ - (အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်) **နောက်ဆက်တွဲ (၃)** | ၇၈၀၀ | ၁၄၈ | ၈၆၈၈ |
| **စုစုပေါင်း** | ၆၃၁၃၀ | ၁၀၄၅ | ၆၉၄၀၀ |

(စက်ပစ္စည်းကိရိယာများနှင့် ကုန်ကြမ်းပစ္စည်းများ US$ 1045000 ကို Hong Kong, Pan Asian Enterprise Corporation မှ Deferred Payment Loan Agreement on the basis of Buy Back System ဖြင့်ဝယ်ယူမည်ဖြစ်ပါသည်။)

| (ခ) နိုင်ငံခြားမှ တင်သွင်းရန် လိုအပ်သည့် | ကျပ် | US$ |
|---|---|---|
| (၁) စက်ပစ္စည်းများ၊ စက်ကိရိယာများ စသည့် ပစ္စည်းတို့၏ တန်ဖိုးပမာဏ (အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်) **နောက်ဆက်တွဲ ၂** | ၅၃၈၂ | ၈၉၇ |
| (၂) ကုန်ကြမ်းပစ္စည်းများနှင့် အခြား အလားတူပစ္စည်းများ၏တန်ဖိုး **နောက်ဆက်တွဲ (၃)** | ၈၈၈ | ၁၄၈ |
| (၃) ကျွမ်းကျင်မှုနည်းပညာရပ်များ၏ တန်ဖိုးပမာဏ | | |
| **စုစုပေါင်း** | ၆၂၇၀ | ၁၀၄၅ |

(ဂ) တည်ဆောက်မှုကာလ - (၆) လ

(ဃ) ပဏာမ စူးစမ်းလေ့လာမှုပြုလုပ်မည့်ကာ - (၃) လ

(င) တည်ဆောက်မှု စတင်မည့်အချိန် - ခွင့်ပြုမိန့်ရရှိပြီး (၃) လအတွင်း

၉။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သောအချက်အလက်များ -

(က) လုပ်ငန်းအမျိုးအစား (ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှု စသည့်ဖော်ပြရန်) - နိုင်ငံတကာအဆင့်မီဓာတ်ခဲအမျိုးမျိုးထုတ်လုပ်ခြင်း လုပ်ငန်း

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ - အကွက်အမှတ် (၆၅) မြေတိုင်းရပ်ကွက် (၄၂)၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုံ ရန်ကုန်တိုင်း။

(ဂ) ဆောင်ရွက်ပုံနည်းစနစ် - နိုင်ငံတကာ အဆင့်မီ စက်ကရိယာများ ခေတ်မီနည်းစနစ်များဖြင့် ထုတ်လုပ်မည်ဖြစ်ပါသည်။

(ဃ) နှစ်စဉ် စက်သုံးဆီလိုအပ်ချက် -

| | အမျိုးအစား | အရေအတွက် |
|---|---|---|
| (၁) | ဒီဇယ်ဆီ | ၂,၀၀၀ ဂါလံ |
| (၂) | ဓါတ်ဆီ | ၃၀၀၀ ဂါလံ |
| (၃) | စက်ဆီ၊ ချောဆီ | ၅၀၀ ဂါလံ |

(င) နှစ်စဉ် လျှပ်စစ်ဓါတ်အားလိုအပ်ချက် -

| | အားအသုံးပြုမှု | မြင်းကောင်ရေ |
|---|---|---|
| ၁။ | လျှပ်စစ်ဓါတ်အား | တနေ့လျှင် ၂၅၀ ကီလိုဝပ် |
| ၂။ | ဓါတ်ဆီ/ဒီဇယ်အင်ဂျင်စက်အင်အား | ---------------------- |
| ၃။ | ဘွိုင်လာ အသုံးပြုအင်ဂျင်စက်အား | ---------------------- |
| ၄။ | သဘာဝဓာတ်ငွေ့သုံးစက်အား | ---------------------- |
| ၅။ | ပေးပို့သည့်အခြားအား (ရေအား/လေအားစသည်များ) | ---------------------- |

(စ) နှစ်စဉ် ရေလိုအပ်ချက် - ၉၀၀,၀၀၀ ဂါလံ

(နေ့စဉ် ရေလိုအပ်ချက်ရှိလျှင် ဖော်ပြရန်) - တနေ့ ၃၀၀၀ ဂါလံ

(ဆ) နှစ်စဉ်လုပ်ငန်းသုံးပစ္စည်း /ကုန်ကြမ်းလိုအပ်ချက်

| အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး (ကျပ်ထောင်ပေါင်း) |
|---|---|---|---|
| ၁။ အဓိကကုန်ကြမ်း | | | |
| (၁) ------------- | ------------- | ------------- | ------------- |
| (၂) ------------- | ------------- | နောက်ဆက်တွဲ (၄) | ------------- |
| ၂။ အထောက်အကူကုန်ကြမ်း | | | |
| (၁) ------------- | ------------- | ------------- | ------------- |
| ------------- | ------------- | နောက်ဆက်တွဲ (၄) | ------------- |
| ၃။ စက်သုံးဆီ/ဓါတ်ငွေ့များ - | | | |
| (၁) ------------- | ------------- | ------------- | ------------- |
| (၂) ------------- | ------------- | ------------- | ------------- |

(ဇ) အဆောက်အအုံလိုအပ်ချက် - **နောက်ဆက်တွဲ (၁၀)**

(ဈ) မြေနေရာအမျိုးအစားနှင့် အကျယ်အဝင်းလိုအပ်ချက် - ၁.၄၂၃ ဧက
(၆၂၀၁၆ စတုရန်းပေ)

(ည) ခန့်မှန်းထုတ်လုပ်မည့်ကုန်ပစ္စည်း/ဆောင်ရွက်မည့်ဝန်ဆောင်မှု

| အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
|---|---|---|---|
| | | နောက်ဆက်တွဲ ၅ | |
| ------------- | ------------- | ------------- | ------------- |
| ------------- | ------------- | ------------- | ------------- |

| | | | |
|---|---|---|---|
| (ဋ) **ရောင်းချမည့်နည်းစနစ်** **ဓာတ်ခဲ (အကြီး၊အလတ်၊အသေး)** | - | **<u>ပြည်တွင်းရောင်း</u>** ၆၀% | **<u>ပြည်ပရောင်း</u>** ၄၀% |

၁၀။ နှစ်စဉ်ကုန်ထုတ်မှု/ဝန်ဆောင်မှုနှင့် စပ်လျဉ်းသောအချက်အလက်များ -

| | ခန့်မှန်းခြေ ကျပ်ငွေ | နိုင်ငံခြားငွေ |
|---|---|---|
| (က) လုပ်ငန်းလည်ပတ်ရန်လိုအပ်မည့်ကျပ်ငွေ | နောက်ဆက်တွဲ ၆ | - |
| (ခ) လိုအပ်မည့်နိုင်ငံခြားသုံးငွေ | နောက်ဆက်တွဲ ၆ | - |
| (ဂ) ရရှိမည့်နိုင်ငံခြားသုံးငွေပမာဏ | နောက်ဆက်တွဲ ၆ | - |
| (ဃ) ပြည်ပသို့တင်ပို့ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုးပမာဏ | နောက်ဆက်တွဲ ၅/၆ | - |
| (င) နှစ်စဉ်ပြည်တွင်း၌ရောင်းချနိုင်မည့် | နောက်ဆက်တွဲ ၅/၆ | |

ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုးပမာဏ -

၁၁။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့်အမှုထမ်းများစာရင်း -

(က) ပြည်တွင်းမှ လိုအပ်မည့်အမှုထမ်းများ -

| **အမှုထမ်းအမျိုးအစား** | **ဦးရေ** |
|---|---|
| စီမံခန့်ခွဲမှု | |
| စက်ရုံဝန်ထမ်း | |
| | နောက်ဆက်တွဲဇယား (၉) |
| ---------------- | ---------------- |
| ---------------- | ---------------- |
| ---------------- | ---------------- |

(ခ) နိုင်ငံခြားမှလိုအပ်မည့်ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ -

| **ကျွမ်းကျင်မှုအမျိုးအစား** | **ဦးရေ** | **ခန့်ထားမည့်အချိန်ကာလ** |
|---|---|---|
| ကျွမ်းကျင်သူပညာရှင် (စက်တပ်ဆင်မှုကာလ) | ၁၀ ဦး | (၆) လ |
| လုပ်ငန်းကျွမ်းကျင်သူပညာရှင် | ၅ ဦး | အချိန်ပိုင်း |

နောက်ဆက်တွဲ (၉)

၁၂။ စီးပွားရေးတွက်ချေကိုက်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ -

| | | ကျပ်ငွေ (ထောင်ပေါင်း) | နိုင်ငံခြားငွေ (ထောင်ပေါင်း) |
|---|---|---|---|
| (က) | နှစ်စဉ်ဝင်ငွေရရှိမှု | နောက်ဆက်တွဲ (၆) | - |
| (ခ) | နှစ်စဉ်လုပ်ငန်းကုန်ကျစရိတ် | နောက်ဆက်တွဲ (၆) | - |
| (ဂ) | နှစ်စဉ်အသားတင်အမြတ် | နောက်ဆက်တွဲ (၆) | - |
| (ဃ) | နှစ်အလိုက်ရင်းနှီးမြှုပ်နှံမှု (ပထမနှစ်) | - | - |
| (င) | အရင်းကျေကာလ | - | ( ၂ ) နှစ် ( ၁၁.၈ ) လ |
| (စ) | အခြားအကျိုးအမြတ်များ နောက်ဆက်တွဲ (၇/၈) | - | အလုပ်အကိုင်ပိုမိုရရှိ၍ နည်းပညာသစ်များရရှိပြီး၊ သွင်းကုန်အစားထိုးလုပ်ငန်းဖြစ်ကာ ပြည်ပသို့တင်ပို့ရောင်းချခြင်းဖြင့် နိုင်ငံတော်အတွက် |

(ဆ) အလုပ်အကိုင်သစ်များပေါ်ပေါက်လာမည့် အခြေအနေ - နိုင်ငံခြားဝင်ငွေရရှိခြင်း။ နောက်ဆက်တွဲ (၉)

၁၃။ ဆောင်ရွက်ရန်အဆိုပြုချက်နှင့် စပ်လျဉ်းသည့် အထောက်အထားများ၊ အဆိုပြုတင်ပြသည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပဋိညာဉ်စာချုပ်မူကြမ်း (လိုအပ်သည့်ကိစ္စတွင်)

(ခ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများ

(ဂ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း/ဖွဲ့စည်းခြင်း မရှိသေးပါက သင်းဖွဲ့မှတ်တမ်းမူကြမ်းနှင့် သင်းဖွဲ့စည်းမျဉ်းမူကြမ်း

(ဃ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက လက်ရှိအခြေအနေနှင့် ပြင်ဆင်ဖွဲ့စည်းမည့် အခြေအနေ အထောက်အထားများ၊

လက်မှတ်၊ ---------------

အမည်၊ ဦးဌေးနိုင်

ရာထူး၊ မန်နေဂျင်းဒါရိုက်တာ

(လျှောက်ထားသူ)

**HTAY NAING**
**(Managing Director)**
**Consumer Goods Manufacturing Co., Ltd.**

နောက်ဆက်တွဲ (၁)

# List of Executives of the Consumer Goods Manafacturing Co., Ltd.

| Sr. No. | Name | Citizenship/ N.R.C No | Designation | Address |
|---|---|---|---|---|
| 1 | U Htay Naing | Myanmar 13/NaKhaNa (Ei) 000130 | Managing Director | No.160, 36th Street, Kyauktada Township, Yangon Division. |
| 2 | U Soe Myint | Myanmar 13/NaKhaNa(Ei) 000138 | Director | No.247, Ground Floor, Kyikekasan Road, Tamwe Township, Yangon Division. |
| 3 | U Yar Su | Myanmar 9/MaYaMa (Naing) 091075 | Director | No. 282, 29th Street, Between 83th & 84th Street, Chan Aye Tha Zan Township, Mandalay Division. |
| 4 | U Kyi Htwe | Myanmar 13/MaSaTa (Ei) 000022 | Director | No. 55, 24th Street, Latha Township, Yangon Division. |

နောက်ဆက်တွဲ ( ၂ )

**Consumer Goods Manufacturing Co.,Ltd.**

**Machinery and Equipment List (to be Imported)**

| Sr No. | Description | A/U | Quantity | Unit Pric US$ | Value US$ |
|---|---|---|---|---|---|
| 1 | Paper pulp feeding machine | Set | 2 | 11500 | 23,000 |
| 2 | Bottom bowl machine | Set | 2 | 7000 | 14,000 |
| 3 | Moulding machine | Set | 2 | 22300 | 44,600 |
| 4 | Positive core-making machine | Set | 2 | 1750 | 3,500 |
| 5 | Zinc tube feeding dial | Set | 2 | 500 | 1,000 |
| 6 | Slurry agaitating machie | Set | 2 | 2750 | 5,500 |
| 7 | Top bowl machine | Set | 2 | 10000 | 20,000 |
| 8 | Carbon bar machine | Set | 2 | 16500 | 33,000 |
| 9 | Paper circle controlling machine | Set | 2 | 1500 | 3,000 |
| 10 | Transmission truntable | Set | 2 | 300 | 600 |
| 11 | Tilting style elevator | Set | 2 | 555 | 1,110 |
| 12 | Curving machine | Set | 2 | 6000 | 12,000 |
| 13 | Sealing agent painting machine | Set | 2 | 16500 | 33,000 |
| 14 | Bottom brushing machine | Set | 2 | 1000 | 2,000 |
| 15 | Oil daubing machine | Set | 2 | 540 | 1,080 |
| 16 | Carrying machine | Set | 1 | 1300 | 1,300 |
| 17 | Packing machine | Set | 4 | 16500 | 66,000 |
| 18 | Electric testing machine | Set | 2 | 4500 | 9,000 |
| 19 | Asphaltic bitunen drawing pipe | Set | 2 | 200 | 400 |
| 20 | Battery modified machine | Set | 2 | 45 | 90 |
| 21 | Horizontal hand-leading extruder | Set | 2 | 65000 | 130,000 |
| 22 | Air-compressor | Set | 1 | 5000 | 5,000 |
| 23 | Cleaning machine | Set | 2 | 6500 | 13,000 |
| 24 | Rolling machine | Set | 2 | 9000 | 18,000 |
| 25 | Polyvinyl chloride treating vat | Set | 6 | 1500 | 9,000 |
| 26 | Acid proof pump | Set | 3 | 170 | 510 |
| 27 | Electroyte treating equipment | Set | 1 | 1500 | 1,500 |
| 28 | Plane grinding machie | Set | 1 | 14000 | 14,000 |
| 29 | Cover shell entry machine | Set | 2 | 13000 | 26,000 |
| 30 | PVC covering, bottom iron plate | Set | 2 | 13500 | 27,000 |
| | adding, paper roll covering combine | | | | |

16. 2. 2000    16. 2. 2000. DSSN

| | | | | | |
|---|---|---|---|---|---|
| 31 | Universal lathe | Set | 1 | 10000 | 10,000 |
| 32 | Universal radia drill machine | Set | 1 | 2500 | 2,500 |
| 33 | Dust - removing grinding wheel | Set | 1 | 300 | 300 |
| 34 | Alternating current and welding machine | Set | 1 | 350 | 350 |
| 35 | Plastic cork capping machine | Set | 2 | 12000 | 24,000 |
| 36 | Single machine | Set | 2 | 4500 | 9,000 |
| 37 | Cover-shell rolling machine | Set | 2 | 12000 | 24,000 |
| 38 | Small sheet driving machine | Set | 2 | 6000 | 12,000 |
| 39 | Big sheet driving machine | Set | 2 | 8500 | 17,000 |
| 40 | PVC cutting driving machine | Set | 2 | 5000 | 10,000 |
| 41 | Carbon package moulding machine | Set | 2 | 12500 | 25,000 |
| 42 | Pulping machine | Set | 2 | 10000 | 20,000 |
| 43 | Cooling machine | Set | 6 | 5500 | 33,000 |
| 44 | Wax pouring machine | Set | 2 | 6500 | 13,000 |
| 45 | Carbon bar's head washing machine | Set | 2 | 9000 | 18,000 |
| 46 | Paper roll covering and sealing machine | Set | 2 | 13500 | 27,000 |
| 47 | Tetra-combine machine | Set | 4 | 6500 | 26,000 |
| 48 | Trade-mark rolling machine | Set | 4 | 4500 | 18,000 |
| 49 | Chamber separating machine | Set | 2 | 8000 | 16,000 |
| 50 | Lift | Set | 10 | 3500 | 35,000 |
| 51 | Door-type converyer | Set | 2 | 6250 | 12,500 |
| 52 | Ethine generator | Set | 1 | 160 | 160 |
| 53 | Copper mould adding machine | Set | 2 | 7250 | 14,500 |
| 54 | Boiler | Set | 1 | 10000 | 10,000 |
| 55 | Computer & Printer | Set | 2 | 750 | 1,500 |
| | **Total** | | | | **897,000** |

အထက်ဖော်ပြပါ စက်ပစ္စည်း (၅၅) မျိုး၏ ဈေးနှုန်းများမှာ သင့်တင့်မှန်ကန်ပါကြောင်း လေးစားစွာဖြင့် တင်ပြအပ်ပါသည်။

HTAY NAING
(Managing Director)
Consumer Goods Manufacturing Co

16 · 2 · 2000

Annexure (II)
နောက်ဆက်တွဲ (၃)

**Consumer Goods Manufacturing Co.,Ltd.**

**Raw Material Requirement For Investment ( to be imported)**

| Sr No. | Particular | A/U | Quantity | Unit Price (US$) | Value (US$) |
|---|---|---|---|---|---|
| 1 | Paper plate | M.T | 8 | 150 | 1200 |
| 2 | Iron plate | M.T | 8 | 450 | 3600 |
| 3 | Iron cap | No (000) | 5333 | 1.1 | 5866 |
| 4 | Plastic cap | No (000) | 5167 | 0.8 | 4134 |
| 5 | Fossillin | No (000) | 2 | 300 | 600 |
| 6 | Barium Chloride | Kg | 80 | 1.2 | 96 |
| 7 | Plastic Bottom Cover | Kg (000) | 1 | 900 | 900 |
| 8 | Plastic round Cover | No (000) | 5346 | 1 | 5346 |
| 9 | Zinc Sterate | Kg | 25 | 1 | 25 |
| 10 | Asphaltic bitumen sealing material | Kg (000) | 12.5 | 100 | 1250 |
| 11 | Mercury bichloride | Kg | 50 | 4 | 200 |
| 12 | Positive copper cap | No (000) | 5347 | 1 | 5347 |
| 13 | Paper Mark | No (000) | 5177 | 1.4 | 7248 |
| 14 | Moisture - Proof Sack | No (000) | 21 | 2 | 42 |
| 15 | Positive synthetic Powder | Kg (000) | 267 | 125 | 33375 |
| 16 | Carbon stick | Kg (000) | 30.5 | 200 | 6100 |
| 17 | Hydrogen peroxide solution | Ml (000) | 25 | 1.2 | 30 |
| 18 | Synthetic material Zinc Chloride | Kg (000) | 25 | 240 | 6000 |
| 19 | Negative pole Zinc spacer | Kg (000) | 116.7 | 570 | 66519 |
| 20 | Zinc oxide | Ml | 125 | 0.8 | 100 |
| 21 | Chlorhydric acid | Ml (000) | 4.83 | 0.6 | 3 |
| 22 | Sulfuric acid | Ml (000) | 4.83 | 0.2 | 1 |
| 23 | Niobic reagent | Ml (000) | 2.5 | 6 | 15 |
| 24 | Silver nitrate | Ml (000) | 2.5 | 1.2 | 3 |
| | **Total** | | | | **148,000** |

အထက်ဖော်ပြပါ ကုန်ကြမ်း (၂၄) မျိုး၏ ဈေးနှုန်းများမှာ သင့်တင့်မှန်ကန်ပါကြောင်း လေးစားစွာဖြင့် တင်ပြအပ်ပါသည်။

HTAY NAING
(Managing Director)
Consumer Goods Manufacturing Co., Ltd.

နောက်ဆက်တွဲ (၃-က)

**Consumer Goods Manufacturing Co.,Ltd.**

**Raw Material List for Investment (Local Purchase)**

| Sr No. | Particular | A/U | Quantity | Unit Price (Kyat) | Value (Kyat 000) |
|---|---|---|---|---|---|
| 1 | Colour printing box | No (000) | 250 | 5200 | 1,300 |
| 2 | Viscose Belt(Ring) | No (000) | 1.2 | 150000 | 180 |
| 3 | Yellow board paper | Kg (000) | 11 | 72000 | 792 |
| 4 | Wheat flour | Kg (000) | 11 | 71000 | 781 |
| 5 | Gasoline | Kg (000) | 5.30 | 95000 | 504 |
| 6 | Liquid Paraffin wax | Kg (000) | 1.2 | 180000 | 216 |
| 7 | Brown - colored paper | Kg (000) | 9.2 | 93000 | 856 |
| 8 | Hard - paper case | No (000) | 22 | 84000 | 1,848 |
| 9 | Starch | Kg (000) | 10.5 | 58000 | 609 |
| 10 | White cotton paper | Kg (000) | 1.3 | 550000 | 715 |
| | **Total** | | | | **7,800** |




အငှားချထားသူသည် အငှားစာချုပ်ရသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည်။

(က) အပိုဒ် ၂-အရ ဤစာချုပ်ကို ပယ်ဖျက်ကြောင်း နိ.တစ်စာကို အငှားချထားသူက မိမိ သင့်လျော်သည်ဟု ထင်မြင်သည့် နည်းလမ်းအတိုင်း အငှားဂရန် ရသူ၏ နောက်ဆုံး သိရှိရသော လိပ်စာတပ်ပြီး ရေစစ္စတြီပြုလုပ်၍ စာပို့တိုက်မှ ပေးပို့နိုင်သည်။ သို့တည်းမဟုတ် ဆိုခဲ့သည့်အတိုင်း လိပ်စာတပ်၍ နိ.တစ်စာကို အဆိုပါမြေကွက်၊ အဆောက်အအုံ စသည့် ပစ္စည်းများ၏ ထင်ရှား၍ လူအများမြင်သာသောနေရာတွင် ကပ်ထားနိုင်သည်။ အဆိုပါ နိ.တစ်စာကိုပြဆိုသည့်နည်းလမ်းအတိုင်းပို့ခြင်း၊ ကပ်ထားခြင်း ပြုလုပ်ပြီးနောက် ရက်ပေါင်း ခြောက်ဆယ်အတွင်း အငှားစာချုပ် ရသူက အဆိုပါ ညွှန်ကြားရေးမှူးချုပ်အား မပြေကျန်ရှိနေသေးသော မြေငှားခကို ဤစာချုပ်ပယ်ဖျက်ခြင်း သို့တည်းမဟုတ် အဆိုပါမြေကွက် ပြန်လည်သိမ်းယူခြင်း၊ သို့တည်းမဟုတ် အဆိုပါမြေကွက်ကို ပြန်လည် အငှားချထားခြင်းနှင့် စပ်လျဉ်း၍ အငှားချထားသူက ကုန်ကျသောစရိတ် အားလုံးနှင့်တကွ အဆိုပါ ညွှန်ကြားရေးမှူးချုပ်သို့ ပေးဆောင်လျှင်သော်လည်းကောင်း၊ အခြားပဋိညာဉ်ခံချက် တစ်ခုခုနှင့် စပ်လျဉ်း၍ ပျက်ကွက်သည့်အတွက် နစ်နာမှုကို ပပျောက်စေရန် အဆိုပါ ညွှန်ကြားရေးမှူးချုပ် ကျေနပ်လောက်အောင် ဆောင်ရွက်လျှင် လည်းကောင်း အငှားချထားသူက ဤစာချုပ်ပါ ပဋိညာဉ်ခံချက်များအတိုင်း နှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား၏ ကျန်ရှိနေသေးသော ကာလအဖို့ အဆိုပါမြေကွက်နှင့် ပြန်လည် သိမ်းယူသည့်အချိန်တွင် ထိုမြေကွက်ပေါ်၌တည်ရှိနေသော အဆောက်အအုံ၊ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို လက်ရှိ ထားနိုင်စေခြင်းငှာ အငှားစာချုပ်ရသူအား ပြန်လည်ပေးအပ်ရန်။ သို့ရာတွင် မီးကြောင့်သော်လည်းကောင်း၊ အခြား အကြောင်း တစ်ခုခုကြောင့်သော်လည်းကောင်း ပျက်စီးရသည့် အဆောက်အအုံ သို့တည်းမဟုတ် ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို ပြန်လည်ပေးအပ်ရန် အငှားချထားသူ၌ တာဝန်မရှိသည့်အပြင် ယင်းသို့ ပြန်လည်သိမ်းယူ သည့်အခါက ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ အမှုထမ်းများ သို့တည်းမဟုတ် ကိုယ်စားလှယ်များ၏ ဖျက်လိုဖျက်ဆီးပြုလုပ်မှုကြောင့် ဆုံးရှုံးပျက်စီးခြင်းအတွက်မှတစ်ပါး အဆိုပါမြေကွက် ပေါ်တွင် ဖြစ်စေ၊ အထဲတွင်ဖြစ်စေ တည်ရှိသော အဆောက်အအုံနှင့် အခြားပစ္စည်းများ၏ တန်ဖိုးယုတ်လျော့ခြင်း၊ ပြုပြင်မှုကင်းမဲ့ခြင်း၊ သို့တည်းမဟုတ် ပျက်ဆီးယိုယွင်းခြင်းအတွက်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၌ တာဝန်မရှိစေရန်။

(ခ) အပိုဒ် ၂-အရ၊ ဤစာချုပ်ကိုပယ်ဖျက်ပြီး မဟုတ်လျှင်လည်းကောင်း၊ အငှားစာချုပ်ရသူကနှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား ကုန်ဆုံးသည်အထိ အဆိုပါမြေငှားခကိုပြေလည်အောင် ပေးဆောင်၍ ဤစာချုပ်ပါမိမိပြုလုပ်သည့် ပဋိညာဉ်ခံ ချက်များအတိုင်း လိုက်နာဆောင်ရွက်လျှင်လည်းကောင်း အငှားစာချုပ်ရသူသည် အဆိုပါမြေကွက်ပေါ်တွင် တည်ဆောက်တွယ်ကပ် ထားသောအဆောက်အအုံများ၊ ထိုအဆောက်အအုံများနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို အဆိုပါကာလအပိုင်းအခြားမကုန် မီ ခြောက်လအတွင်း ဖျက်သိမ်းသယ်ယူ ခန့်ခွဲနိုင်သည်။ သို့ရာတွင် ထိုသို့ သယ်ယူခြင်းကြောင့် အဆိုပါမြေကွက်ပျက်စီးယိုယွင်းခဲ့ လျှင် ထိုမြေကွက်ကိုမူလအခြေအနေအတိုင်းရှိအောင် ပြုပြင်ပေးရန်။

(ဂ) ( ၂၀၃၃ )ခုနှစ်၊ ဖေဖော်ဝါရီ လ၊ (  )ရက်နေ့မှစ၍ ပထမတဆယ့်ငါးနှစ် ကုန်ဆုံးသည့် အခါ ဒုတိယတဆယ့်ငါးနှစ်အတွက် ရန်ကုန်စည်ပင်သာယာရေး မြေနည်းဥပဒေ ၂၄-အရ စည်းကြပ်သော သုံးလပတ်မြေငှားခကို လည်းကောင်း၊ ဒုတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ တတိယတဆယ့်ငါးနှစ်အတွက် အဆိုပါ နည်းဥပဒေ ၂၄-အရ စည်းကြပ်သော သုံးလပတ်မြေငှားခကိုလည်းကောင်း၊ တတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ စတုတ္ထတဆယ့် ငါးနှစ်အတွက် အဆိုပါနည်းဥပဒေ ၂၄-အရ စည်းကြပ်သောသုံးလပတ်မြေငှားခကိုလည်းကောင်း အငှားစာချုပ်ရသူက အငှားချထားသူအား ပေးဆောင်ရန်။ အကယ်၍ အထက်ပါနည်းလမ်းအတိုင်း မြေငှားခကိုပြန်လည်စည်းကြပ်ခြင်းမပြုလျှင် အငှားစာချုပ်ရသူသည် ဤအပိုဒ်ခွဲတွင်ပြဋ္ဌာန်းထား သည့်နည်းလမ်းအတိုင်း မြေငှားခကိုပြောင်းလဲခြင်းမပြုမီ သတ်မှတ်ထားသည့် စည်းကြပ်ဆဲသုံးလပတ်မြေငှားခကို ဆက်လက်ပေး ဆောင်ရန်။

(ဃ) ဤစာချုပ်ပါအခြားပြဋ္ဌာန်းချက်များတွင် ဆန့်ကျင်လျက်မည်သို့ပင်ပါရှိစေကာမူ ဤစာချုပ် ချုပ်ဆိုသည့်နေ့မှစ၍ ပထမနှစ်ပေါင်းသုံးဆယ်အတွင်းသတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောမြေငှားခကို ပြေလည်အောင် ပေး ဆောင်ခဲ့သောကြောင့် လည်းကောင်း၊ ပြုလုပ်ထားသည့်ပဋိညာဉ်ခံချက်များကို မပျက်မကွက်လိုက်နာဆောင်ရွက်ခဲ့သောကြောင့် လည်းကောင်း သတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောသုံးလပတ် မြေငှားခဖြင့်နောက်ထပ် နှစ်ပေါင်း သုံးဆယ်အတွက် ဆက်လက်၍ အဆိုပါမြေကွက်ကို ငှားရမ်း မြေငှားစာချုပ် အသစ် ချုပ်ဆိုရန် သဘောတူကြောင်း အဆိုပါ ပထမ နှစ်ပေါင်းသုံးဆယ်မပြည့်မီ အနည်းဆုံးခြောက်လကြိုတင်၍ အငှားရသူက အငှားချထားသူအား စာဖြင့် အကြောင်းကြား ရမည်။ အကြောင်းကြားစာနှင့်အတူ ပထမမြေငှားစာချုပ်ကိုပေးအပ်လျှင် ထိုအကြောင်းကြားစာရရှိသည့်နေ့မှခြောက်လအတွင်းနောင် နှစ်ပေါင်းသုံးဆယ်အတွက် ပထမမြေငှားစာချုပ်ပါ ပဋိညာဉ်ခံချက်များနှင့်ဖြစ်နိုင်သမျှ တူညီသည့် ပဋိညာဉ် ခံချက်များပါရှိသည့် မြေငှားစာချုပ် အသစ်ကို အငှားစာချုပ်ရသူ၏ စရိတ်ဖြင့် အငှားချထားသူကထုတ်ပေးရန်။ အကယ်၍ မြေငှားခကို သတ်မှတ်ခြင်းမရှိသေးလျှင် ပထမမြေငှားစာချုပ်အရ နောက်ဆုံးပေးဆောင်ခဲ့ရသော သုံးလပတ်မြေငှားခကို အငှားစာချုပ်ရသူကပေးဆောင်ရန်။

ဤစာချုပ်ပါစကားရပ်များကို သိရှိနားလည်ကြပြီးဖြစ်သဖြင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်နှင့် ညွှန်ကြားရေးမှူးတို့ရှေ့တွင် ဦးစီးဌာနတံဆိပ်ကိုခပ်နှိပ်၍ အဆိုပါညွှန်ကြားရေးမှူးချုပ်နှင့်အဆိုပါ ဦးနိုင်မြိုး ကျော်၊ ဒေါ်ခင်ဂျီ သည် ဤစာချုပ်ကိုအထက်ဦး နေ့မြဲ ဖော်ပြခဲ့သည့်နေ့တွင် လက်မှတ် ရေးထိုးကြကြောင်း။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန

မြို့ - ရန်ကုန်

တံဆိပ်ကို ညွှန်ကြားရေးမှူးချုပ် **ဦးအုံ့ကျော်**




ညွှန်ကြားရေးမှူးချုပ်

ဒုတိယညွှန်ကြားရေးမှူးချုပ် **ဦးအုံ့ကျော်**

ဒုတိယညွှန်ကြားရေးမှူးချုပ်

နှင့် ညွှန်ကြားရေးမှူး **ဦးတင်ဝင်း**

ရှေ့မှောက်၌ ခပ်နှိပ်၍ အဆိုပါ ညွှန်ကြားရေးမှူးချုပ်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်နှင့် ညွှန်ကြားရေးမှူးတို့လက်မှတ် ရေးထိုးသည်။

ညွှန်ကြားရေးမှူး

သိသက်သေ။

ဒုတိယညွှန်ကြားရေးမှူး (မြေနှင့်အခွန်) **ဦးကျော်ဝင်း**

အငှားစာချုပ်ရသူ ဦးနိုင်မြိုး ကျော်၊ ဒေါ်ခင်ဂျီ က လက်မှတ်ရေးထိုးသည်။

အငှားစာချုပ်ရသူ

[ဖော်ပြပါ အငှားစာချုပ်ရသူ အတွက် ... လက်ဗွေ ရေးထိုးသည်]

သိသက်သေ။

၁။ ဝင်းမောင်ဖြိုး ၂၈၄-၀၀၈ ရေဘေ ... ကမ်းနား

၂။ (ခင်မောင်ဝင်း)

**လက်ထောက်ညွှန်ကြားရေးမှူး**
**မြေနှင့်အခွန် ဌာနခွဲ**

အထက်တွင် ရည်ညွှန်းထားသည့် ဇယား

မြေပုံ

ခွင့်ပြုပြီးမြေပုံဖြစ်သော လူနေရပ်ကွက်အမှတ် စက်မှုဇုန်

မြေတိုင်းရပ်ကွက်အမှတ် ၆၂

ရန်ကုန်မြို့ ရွှေပြည်သာ မြို့နယ်။

တွင်ရှိ ______ တန်းစား၊ မြေကွက်အမှတ် ၆၅

ဖြစ်သည်။ ပူးတွဲပါ မြေပုံ၌ မင်နီဖြင့် ပြထားသော အလျား ၂၀၄ ပေ၊ အနံ ၂၀၇/၂၀၅ ပေခန့်ရှိသော အလားအလာ

ရှေ့လားသော် ဧကရာဇ်လမ်းမ - ၆၉

နောက်လားသော် ကွက်လပ်

ကွင်လားသော် ကွက်လပ်

ကွက်လားသော် လမ်း

[illegible] ဧက၊ (စတုရန်းပေ ၄၂၀၁၈ )



# ASIA WEALTH BANK LIMITED

အာရှဓနဘဏ်လီမိတက် (CHINA TOWN BRANCH)

亚洲经济银行 YANGON.

Dated the 20th January 2000.

TO WHOM IT MAY CONCERN

I hereby certify that U Htay Naing (13/NaKhaNa(Aie) 000130) and Daw Khin Yee (13/NaKhaNa(Aie)000022) have jointly opened a Current Account in our bank branch, A/c. No. 0101120001695.

It is an active account. The balance maintain at its account is quite appreciable and sound.




( NGWE HTUN )
ASSISTANT GENERAL MANAGER
(CHINA TOWN BRANCH)

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့်ကုမ္ပဏီ

အို ဆို အင် တာ နေ ရှင် နယ် **ကုမ္ပဏီ လီမိတက်**

၏

# သင်းဖွဲ့မှတ်တမ်း

နှင့်

# သင်းဖွဲ့စည်းမျဉ်းများ



THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

*AND*

# Articles Of Association

*OF*

O SO INTERNATIONAL **COMPANY LIMITED**

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# အို ဆို အင် တာ နေ ရှင် နယ် **ကုမ္ပဏီ လီမိတက်**

၏

## သင်းဖွဲ့မှတ်တမ်း



၁။ **ကုမ္ပဏီ၏** အမည်သည် " အို ဆို အင် တာ နေ ရှင် နယ် ကုမ္ပဏီ **လီမိတက်** "ဖြစ်ပါသည်။

၂။ **ကုမ္ပဏီ၏** မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ **ကုမ္ပဏီ** တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်း ဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ်မ,တည်ငွေရင်းသည် ကျပ် ၁၀၀၀၀၀၀၀၀ိ /-(ကျပ် တစ် ရာသန်း – တိတိ) ဖြစ်၍ ငွေကျပ် ၁၀၀၀၀ိ /-(ကျပ် တစ် သောင်း – တိတိ) တန် အစုရှယ်ယာပေါင်း ( ၁၀၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကိုကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေပြဋ္ဌာန်းချက်များနှင့် အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့် နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

(၁) နိုင်ငံတော်အစိုးရက ခွင့်ပြုထားသော အောက်ဖော်ပြပါ ကုန်ပစ္စည်းများကို ထုတ်လုပ်ခြင်း၊ စိုက်ပျိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ပြုပြင်ခြင်း စသည့်လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် မိမိတစ်ဦးတည်းဖြစ်စေ၊ မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်များနှင့် ဖက်စပ်၍ဖြစ်စေ လုပ်ကိုင်ရန်။

- (က) လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက် ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိတ်သိမ်းခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်း၊ ထုပ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း၊
- (ခ) (ကျွန်းမှအပ) သစ်နှင့် သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း၊ ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်းနှင့် အသားသေစေခြင်း၊
- (ဂ) တိရစ္ဆာန်မွေးမြူခြင်းနှင့် တိရစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း၊
- (ဃ) ရေထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း၊
- (င) ဓာတ်မြေဩဇာ၊ ပိုးသတ်ဆေးနှင့် တိရစ္ဆာန်အစားအစာများ ထုတ်လုပ်ခြင်း၊
- (စ) လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
- (ဆ) အိမ်သုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
- (ဇ) ယာဉ်နှင့်စက်ကိရိယာများ၊ အပိုပစ္စည်းများ ထုတ်လုပ်ခြင်း၊
- (ဈ) လက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်များနှင့် ပရိဘောဂများ ထုတ်လုပ်ခြင်း၊
- (ည) ဆောက်လုပ်ရေးပစ္စည်းများနှင့် သုတ်ဆေးများ ထုတ်လုပ်ခြင်း၊
- (ဋ) စက်ရုံသုံးပစ္စည်းများ ထုတ်လုပ်ခြင်း၊
- (ဌ) လျှပ်စစ်နှင့် အီလက်ထရောနစ် ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
- (ဍ) ဆေးဝါးထုတ်လုပ်ခြင်း၊
- (ဎ) အထည်အလိပ်နှင့် အဝတ်အထည်များ ထုတ်လုပ်ခြင်း၊

(၂) အထက်ဖော်ပြပါ လုပ်ငန်းများတွင် လိုအပ်သည့် စက်ကိရိယာများ၊ အပိုပစ္စည်းများ၊ ကုန်ကြမ်းပစ္စည်းများနှင့် အခြားသောပစ္စည်းများကို ပြည်ပမှ တင်သွင်းရန်နှင့် ထွက်ရှိလာသောကုန်ချောများ၊တစ်စိတ်တစ်ဒေသ ကုန်ချောများကို ပြည်တွင်းပြည်ပတွင် လက်လီလက်ကား ရောင်းချရန်။

(၃) ဆောက်လုပ်ရေးလုပ်ငန်းများကို လုပ်ကိုင်ရန်နှင့် ယင်းလုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်းများ၊ အပိုပစ္စည်းများနှင့် အခြားဆောက်လုပ်ရေးပစ္စည်းများကို ပြည်ပမှ တင်သွင်းရန်။

(၄) ကုမ္ပဏီမှ သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန် အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

**ခြွင်းချက်**။ ။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့်လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကိုလုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌အချိန်ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ် ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာ စုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဦး ခွေး နိုင်<br>အမှတ်(၁၆၀)၊ (၃၆)လမ်း<br>ကျောက်တံတားမြို့နယ်၊ ရန်ကုန်တိုင်း။<br>(ကုန်သည်) | မြန်မာ<br>၁၃ / နခန<br>(နိုင်)<br>၀၀၀၁၃၀ | ၁၀ | |
| ၂။ | ဦး ဗိုး မြင့်<br>အမှတ်(၂၄၇)၊ မြေညီထပ်<br>ကျိုက္ကဆံလမ်း၊ တာမွေ မြို့နယ်<br>ရန်ကုန်တိုင်း ။<br>(ကုန်သည်) | မြန်မာ<br>၁၃ / နခန<br>(ညွှန့်)<br>၀၀၀၁၃၇ | ၁၀ | |
| ၃။ | ဦး ရာဆု<br>အမှတ်(၂၈၂)၊ (၂၉)လမ်း<br>(၈၃)နှင့်(၈၄) လမ်းကြား<br>ချမ်း အေး သာ ဇံမြို့နယ်<br>မန္တလေး တိုင်း ။<br>(ကုန်သည်) | မြန်မာ<br>၉ / မရမ<br>(နိုင်)<br>၀၉၁၀၇၅ | ၁၀ | |
| ၄။ | ဦး ကြည် ထွေး<br>အမှတ်(၅၅)၊ (၂၄)လမ်း<br>လသာမြို့နယ်၊ ရန်ကုန်တိုင်း ။<br>(ကုန်သည်) | မြန်မာ<br>၁၃ / မဆတ<br>(ညွှန့်)<br>၀၀၁၀၂၂ | ၁၀ | |

ရန်ကုန်။ နေ့စွဲ၊ ၁၉၉၄ ခုနှစ်၊ ဇူလိုင် လ၊ ၆ ရက်။

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်၊

**U Kyaw Win, B.Com., B.L., R.A**
**Company Consultant, Adviser and**
**Registered Accountant**
**37, Myaungmya Street,**
**Sanchaung, Yangon.**
**Phone : 30047**

# မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

## ဒို ဆို အင် တာ နေ ရှင် နယ် ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ



၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါသတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင်အရေအတွက်ကို ငါးဆယ်အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန်အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

### မ,တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်း မှာ ကျပ် ၁၀၀၀၀၀၀၀၀၀ိ /-(ကျပ် ကစ် ဂုသ န်း
– တိတိ) ဖြစ်၍ ငွေကျပ် ၁၀၀၀၀ိ /-(ကျပ် တစ် သောင်း
– တိတိ) တန် အစုရှယ်ယာပေါင်း ( ၁၀၀၀၀ ) ခွဲထားပါသည်။

ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများ နှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင် ရှိစေရမည်။ ၄င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ်များကလက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ် ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာ လက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း၊ သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြားသက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင် ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ် ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကိုအခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်း အတွက် ဒါရိုက်တာများက သတ်မှတ်သည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ ) ဦးထက်မနည်း၊ ( ၉ ) ဦးထက်မများစေရ။

ပထမဒါရိုက်တာများသည်-

(၁) ဦး ဌေး နိုင်
(၂) ဦး ဗိုး မြင့်
(၃) ဦး ရာဇာ
(၄) ဦး ကြည် ထွေး
(၅)

တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ဉာဏ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းက အသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး ( ၁ဝ )စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁ဝ။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့၏ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံ ဆွေးနွေးခြင်း၊အစည်းအဝေး ရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာ ဦးရေသတ်မှတ်ခြင်း တို့ကိုဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေး အထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့်ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့်ကိစ္စများကို မဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေ အတွက် တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့်ဆုံးဖြတ်ချက် တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံးအတွက် အကျိုး သက်ရောက်စေရမည်။

### ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့် တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲ ဇယားပုံစံ (က) ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ် ထားသော အထွေထွေအာဏာများကို မထိခိုက်စေဘဲ ဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ–

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော တန်ဖိုးနှင့် စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီကရယူရန် အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကို မဆို ဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီက ပိုင်ဆိုင်ခွင့်ရှိသော မည်သည့် ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကို မဆို သင့်တော်သော စည်းကမ်းချက်များ သတ်မှတ်၍ ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြား နည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သော စည်းကမ်းသတ်မှတ်ချက်များဖြင့် ငွေကြေးများကို ချေးငှားရန် သို့မဟုတ် အဆိုပါ ချေး ငှားသောငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများ ထားရှိရန်အပြင်၊ အထူးသဖြင့် ဤ ကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ယခုလက်ရှိနှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ် ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ၊ သို့မဟုတ် ဤကုမ္ပဏီ၏ အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့် ပေးသွင်းပြီးသော အစုရှယ်ယာ အနေဖြင့်သော် လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့်သော် လည်းကောင်း၊ သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံစာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့ မဟုတ်ဘဲ ဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့် လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်းအလို့ငှာ ခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်း ရပ်များအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍သော် လည်းကောင်း၊ အပေါင်ပြု၍သော် လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ တောင်းခံခေါ်ယူ၍သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကို အမြဲ တမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက် ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများ အတွက် လည်းကောင်း၊ အဆိုပါ ပုဂ္ဂိုလ်တို့၏ တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌လည်းကောင်း သင့်လျော်သလို ဆောင် ရွက်ရန်၊ ထို့အပြင် အဆိုပါ ကိစ္စရပ်များအတွက် ကုမ္ပဏီ၏ မည်သည့်အရာရှိကိုမဆို ကိစ္စရပ်အားလုံးကို ဖြစ်စေ၊ တစ်စိတ်တစ်ဒေသကို ဖြစ်စေ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန် လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာ ရာထူးနှင့် တွဲဖက်၍ မန်နေဂျင်းဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲမန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) မည်သည့်အစုရှင်ထံမှမဆို ၎င်းတို့၏အစုရှယ်ယာများ အားလုံးကိုဖြစ်စေ၊ အချို့အပက်ကိုဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသော စည်းကမ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြား အကြောင်းများကြောင့် ဖြစ်သော မည်သည့်ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံ ထိန်းသိမ်းထားရန်အတွက် မည်သည့် ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါယုံမှတ်အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆိုပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆိုဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့် ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက်သဘောတူ ကြေအေးခြင်းများပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေးခုံသမာဓိထံသို့ ဖြေရှင်းရန် အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသော တောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ ပေးရန်ရှိသော ငွေကြေးများ အတွက် ပြေစာများပြုလုပ်ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့် စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီ မဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့် လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက်စာချုပ်များနှင့် စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ်ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော် လျောက်ပတ်သော နည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်းပါသည်ဖြစ်စေ၊ မပါသည် ဖြစ်စေ ရင်းနှီးမြုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်၊ ထို့အပြင်အချိန်ကာလအားလျော်စွာ မြုပ်နှံ ထားသော ငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေးစိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်၊ အဆိုပါပေါင်နှံခြင်းဆိုရာ၌ရောင်းချနိုင်သည့် အာဏာနှင့် အခြားသောသဘောတူညီထားသည့် တရားဝင် သဘောတူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီက ခန့်အပ်ထားသော မည်သည့်အရာရှိ သို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျ ဆောင်ရွက်ခဲ့သည့် လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း၊ သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေးခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ၊ အမြတ်များ ခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏ လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏ လုပ်ငန်းများ၊ အရာရှိများ၊ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏ လုပ်ငန်းအတွက် ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန်အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကို လည်းကောင်း၊ ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း၊ လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော် လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေး လုပ်ငန်းတွင် အကျိုးရှိစေရန်အတွက်မည်သည့် ပြည်တွင်း ပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

## အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ် အစည်းအဝေးကြီးကိုကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ်တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အထွေထွေအစည်းအဝေးကြီးနှင့် တစ်ဆယ့်ငါးလထက်မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်း သတ်မှတ်ပြဋ္ဌာန်းခြင်းမရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက်မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံး ဆောင်ရွက်ရန်အတွက် အစည်းအဝေးအထမြောက်သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင်အစုရှင်အရေအတွက် နှစ်ဦးတည်းသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက်ဖြစ်စေရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏ အစုရှင်များအား ခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေညာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

## ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်း ပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဥာဏ်ပူဇော်ခများနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၄င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ ထားသိုထိန်းသိမ်း ဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၄င်းရငွေ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၄င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများနှင့် လိုက်လျောညီထွေ ဖြစ်ရမည်။

### နို့တစ်စာ

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသောစာကို စာတိုက်ခ ကြိုတင်ပေးထား၍ ၄င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတစ်ဆင့် လိပ်မူပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

### တံဆိပ်

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှတစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

### လျော်ကြေး

၂၃။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၆ (ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင်တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိ တစ်ဦးဦးမှာ မိမိ၏ တာဝန် ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ၊ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များအတွက် ကုမ္ပဏီထံမှ လျော်ကြေး ရထိုက်ခွင့်ရှိစေရမည်။

### ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။



အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာ စုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဦး ဌေး နိုင်<br>အမှတ်(၁၆၁)၊ (၃၆)လမ်း<br>ကျောက်တံတားမြို့နယ်၊ ရန်ကုန်တိုင်း။<br>(ကုန်သည်) | မြန်မာ<br>၁၃/နခန<br>(ဧည့်)<br>၀၀၀၁၃၀ | ၁၀ | |
| ၂။ | ဦး စိုး မြင့်<br>အမှတ်(၂၄၇)၊ မြေညီထပ်<br>ကျိုက္ကဆံလမ်း၊ တာမွေမြို့နယ်<br>ရန်ကုန်တိုင်း။<br>(ကုန်သည်) | မြန်မာ<br>၁၃/နခန<br>(ဧည့်)<br>၀၁၀၁၃၈ | ၁၀ | |
| ၃။ | ဦး ရာဆု<br>အမှတ်(၂၈၂)၊ (၂၉) လမ်း<br>(၈၃) နှင့်(၈၄) လမ်းကြား<br>ချမ်းအေးသာစံမြို့နယ်<br>မန္တလေးတိုင်း။<br>(ကုန်သည်) | မြန်မာ<br>၉/မရမ<br>(နိုင်)<br>၀၉၁၀၇၅ | ၁၀ | |
| ၄။ | ဦး ကြည်ထွေး<br>အမှတ်(၅၅)၊ (၂၄)လမ်း<br>လသာမြို့နယ်၊ ရန်ကုန်တိုင်း။<br>(ကုန်သည်) | မြန်မာ<br>၁၃/မဆတ<br>(ဧည့်)<br>၀၀၀၀၂၂ | ၁၀ | |

ရန်ကုန်။ နေ့စွဲ၊ ၁၉၉၅ ခုနှစ်၊ နိုဝင်ဘာ လ၊ ၄ ရက်။

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်၊

U Kyaw Win, B.Com., B.L., R.A.
Company Consultant, Adviser and
Registered Accountant
37, Myaungmya Street,
Sanchaung, Yangon.
Phone : 30047

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

OF

O SO INTERNATIONAL **COMPANY LIMITED**



I. The name of the Company is O SO INTERNATIONAL **COMPANY LIMITED.**

II. The registered office of the Company will be situated in the Union of Myanmar.

III. The objects for which the Company is established are as on the next page.

IV. The liability of the members is limited.

V. The authorised capital of the Company is Ks. 100,000,000/- ( Kyats One Hundred Million Only ) divided into ( Ten Thousand ) shares of Ks. 10000 /- ( Kyats Ten Thousand Only ) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

To carry on the business of manufacturing, growing, milling and preserving etc; of the following commodities permitted by the Government, either solely on its own or in joint-venture with any local or foreign partners.

(a) Growing, producing, harvesting, preserving, packaging, milling and manufacturing of agricultural and farm produces.

(b) Felling, extracting (with the permission from the authorities concerned),milling, manufacturing, preserving and seasoning of timber (excluding teak) and forest products.

(c) Livestock breeding, processing and canning of livestock products.

(d) Fishing, preserving, milling, canning and processing of marine products.

(e) Producing fertilizers, insecticides and animal feeds.

(f) Manufacturing of personal goods.

(g) Manufacturing of household goods.

(h) Manufacturing of vehicles, machineries and spares.

(i) Manufacturing of Arts and crafts, lacquerwares and furniture.

(j) Manufacturing of construction materials and paints.

(k) Manufacturing of factory utencils.

(l) Manufacturing of electrical and electronic goods.

(m) Manufacturing of medicines.

(n) Manufacturing of textile, garments and clothings.

(2) To import machinery, spare parts, raw materials and others necessary for those activities mentioned above and to sell wholesale and retail finished and semi-finished products locally and abroad.

(3) To carry on the business of construction works and to import machinery, spare parts and other construction materials necessary for the above mentioned activities.

(4) To borrow money for the benefit of the Company's business from any person, firm, company, bank or financial organization in the manners that the Company shall think fit.

***PROVISO:*** - *Provided that the Company shall not exercise any of the above objects whether in the Union of Myanmar or elsewhere, save in so far as it may be entitled so as to do in accordance with the Laws, Orders and Notifications in force from time to time and then only subject to such permission and or approval as may be prescribed by the Laws, Orders and Notifications of the Union of Myanmar for the time being in force.*

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No: | Name, Address and Occupation of Subscribers | Nationality & N. R. C. No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1. | U Htay Naing<br>NO. 160, 36th. Street,<br>Kyauktada Township,<br>Yangon Division.<br>(MERCHANT) | MYANMAR<br>13 /NaKhaNa<br>( Ei )<br>000130 | 10 | |
| 2. | U Soe Myint<br>NO. 247, Ground Floor,<br>Kyikekasan Road, Tamwe<br>Township, Yangon<br>Division.<br>(MERCHANT) | MYANMAR<br>13 /NaKhaNa<br>( Ei )<br>000138 | 10 | |
| 3. | U Yar Su<br>NO. 282, 29th. Street,<br>Between 83rd.& 84th.Street,<br>Chan Aye Tha Zan Township ,<br>Mandalay Division.<br>(MERCHANT) | MYANMAR<br>9 / MaYaMa<br>(Naing)<br>091075 | 10 | |
| 4. | U Kyi Htwe<br>NO. 55, 24th. Street,<br>Latha Township, Yangon<br>Division.<br>(MERCHANT) | MYANMAR<br>13 / MaSaTa<br>( Ei )<br>000022 | 10 | |

Yangon. Dated the 9th day of November, 1995

*It is hereby certified that the persons mentioned above put their signatures in my presence.*

**U Kyaw Win**, B.Com., B.L., R.A.
Company Consultant, Adviser and
Registered Accountant
37, Myaungmya Street,
Sanchaung, Yangon.
Phone : 30047

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Articles Of Association

OF

O SO INTERNATIONAL **COMPANY LIMITED**



1. The regulations contained in Table 'A' in the First Schedule to the Myanmar Companies Act shall apply to the Company save in so far as such regulations which are inconsistent with the following Articles. The compulsory regulations stipulated in Section 17 (2) of the Myanmar Companies Act shall always be deemed to apply to the Company.

## PRIVATE COMPANY

2. The Company is to be a Private Company and accordingly following provisions shall have effect:-

   *(a) The number of members of the Company, exclusive of persons who are in the employment of the Company, shall be limited to fifty.*

   *(b) Any invitation to the public to subscribe for any share or debenture or debenture stock of the Company is hereby prohibited.*

## CAPITAL AND SHARES

3. The Authorised Capital of the Company is Ks. 100,000,000 /- ( Kyats One Hundre Million Only) divided into( 10000 ) shares of K. 10,000 /- ( Kyats Ten Thousand Only) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

4. Subject to the provisions of the Myanmar Companies Act the shares shall be under the control of the Directors, who may allot or otherwise dispose of the same to such persons and on such terms and conditions as they may determine.

5. The certificate of title to share shall be issued under the Seal of the Company, and signed by the General Manager or some other persons nominated by the Board of Directors. If the share certificate is defaced, lost or destroyed, it may be renewed on payment of such fee, if any, and on such terms, if any, as to evidence and indemnity as the Directors may think fit. The legal representative of a deceased member shall be recognised by the Directors.

6. The Directors may, from time to time make call upon the members in respect of any money unpaid on their shares, and each member shall be liable to pay the amount of every call so made upon him to the persons, and at the times and places appointed by the Directors. A call may be made payable by instalments or may be revoked or postponed as the Directors may determine.

## DIRECTORS

7. Unless otherwise determined by a General Meeting the number of Directors shall not be less than ( 2 ) and not more than ( 9 ).

The First Directors shall be:-

(1) U HTAY NAING

(2) U SOE MYINT

(3) U YAR SU

(4) U KYI HTWE

(5)

8. The Directors may from time to time appoint one of their body to the office of the Managing Director for such terms and at such remuneration as they think fit and he shall have all the powers delegated to him by the Board of Directors from time to time.

9. The qualification of a Director shall be the holding of at least ( 10 ) shares in the Company in his or her own name and it shall be his duty to comply with the provision of Section (85) of the Myanmar Companies Act.

10. The Board of Directors may in their absolute and uncontrolled discretion refuse to register any proposed transfer of shares without assigning any reason.

## PROCEEDINGS OF DIRECTORS

11. The Director may meet together for the despatch of business, adjourn and otherwise regulate their meeting as they think fit and determine the quorum necessary for the transaction of business. Unless otherwise determined, two shall form a quorum. If any question arising at any meeting the Managing Director's decision shall be final. When any matter is put to a vote and if there shall be an equality of votes, the Chairman shall have a second or casting vote.

12. Any Director may at any time summon a meeting of Directors.

13. A resolution in writing signed by all the Directors shall be as effective for all purposes as a resolution passed out at meeting of the Directors,duly called,held and constituted.

## POWERS AND DUTIES OF DIRECTORS

14. Without prejudice to the general power conferred by Regulation 71 of the Table "A" of the Myanmar Companies Act, it is hereby expressly declared that the Directors shall have the following powers, that is to say power:-

(1) To purchase or otherwise acquire for the Company any property, rights or privileges which the Company is authorized to acquire at such price, and generally on such terms and conditions as they think fit; also to sell, lease, abandon or otherwise deal with any property, rights or privileges to which the Company may be entitled. on such terms and conditions as they may think fit.

(2) To raise, borrow or secure the payment of such sum or sums in such manner and upon such terms and conditions in all respects as they think fit and in particular by the issue of debentures or debenture stocks of the Company charged upon all or any part of the property of the Company (both present and future) including its uncalled capital for the time being.

(3) At their discretion, to pay for any rights acquired or services rendered to the Company, either wholly or partially in cash or in shares, bonds, debentures or other securities of the Company and any such shares may be issued either as fully paid up or with such amount credited as paid up thereon as may be agreed upon; and any such bonds, debentures or other securities may be either specifically charged upon all or any part of the property of the Company and its uncalled capital or not so charged.

(4) To secure the fulfilment of any contract or engagement entered into by the Company by mortgage or charge upon all or any of the property of the Company and its uncalled capital for the time being or by granting calls on shares or in such manner as they may think fit.

(5) To appoint at their discretion, remove or suspend such Managers, Secretaries, Officers, Clerks, Agents and Servants for permanent, temporary or special services as they may from time to time think fit and to determine their duties and powers and fix their salaries or emoluments and to require security in such instances in such amount as they think fit and to depute any officers of the Company to do all or any of these things on their behalf.

(6) To appoint a Director as Managing Director, General Manager, Secretary or Departmental Manager in conjunction with his Directorship of the Company.

(7) To accept from any member on such terms and conditions as shall be agreed on the surrender of his shares or any part thereof.

## GENERAL MEETINGS

15. A general meeting shall be held within eighteen months from the date of its incorporation and thereafter at least once in every calendar year at such time ( not being more than fifteen months after the holding of the last preceding general meeting ) and places as may be fixed by the Board of Directors. No business shall be transacted at any general meeting unless a quorum of members is presented at the time when the meeting proceeds to business, save as herein otherwise provided Member holding not less than 50 percent of the issued shares capital (not less than two members) personally present, shall form a quorum for all purposes. And if and when in the case of there are only two number of members in the Company, those two members shall form a quorum.

## DIVIDENDS

16. The Company in general meeting may declare a dividend to be paid to the members, but no dividend shall exceed the amount recommended by the Directors. No dividends shall be paid otherwise than out of the profits of the year or any other undistributed profits.

## OFFICE STAFF

17. The Company shall maintain an office establishment and appoint a qualified person as General Manager and other qualified persons as office staffs. The remunerations and allowances such as salaries, travelling allowances and other expenditures incidental to the business shall be determined by the Board of Directors, and approved by the general meeting. The General Manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Managing Director.

## ACCOUNTS

18. The Directors shall cause to be kept proper books of account with respect to:-

*(1) all sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place;*

*(2) all sales and purchases of goods by the Company;*

*(3) all assets and liabilities of the Company.*

19. The books of account shall be kept at the registered office of the Company or at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

## AUDIT

20. Auditors shall be appointed and their duties regulated in accordance with the provisions of the Myanmar Companies Act or any statutory modifications thereof for the time being in force.

